



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၀၇/၉၈  ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာ လ ၂၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အောင်ဝင်း

(ခ) အဘအမည် ဦး ဘသော်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် RGN - 000056

(ဃ) နေရပ်လိပ်စာ အမှတ် ၂၁၂၊ ဦးဝိစာရလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဝင်းအင်(န်) ဇင်ဂါးမင့် လီမိတက် ( Win & Zin Garment Limited )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား နိုင်ငံတကာသို့အသင့်ဝတ်အထည် အမျိုးမျိုး ချုပ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ် ၂၉၊ ပြည်လမ်း၊ ရဝိုင်၊ ပေရယ်း ကုန်း မြို့နယ်၊ ရန်ကုန်မြို့

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ( ၄၁.၀၀ ) သန်း၊
( ကျပ် လေး ဆယ့်တစ်သန်း [illegible] )

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့် ကြော်ငြာစာအမှတ်၊ ၁၀၅/၉၈ (မနသ)**
**ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ နတ်တော်လဆန်း ၇ ရက်။**
**(၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၂၅ ရက်)**

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.) တည်ထောင်၍ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးဖြစ်သူ ဒေါ်လှကျင် အမည်ဖြင့် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီမှ စက်ရုံမြေအဖြစ်ချပေးထားသော ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ (၇)မိုင်၊ ပြည်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၂၉)ရှိ မြေ(၁.၅၀၅)ဧက (၆၀၉၀.၅၂ စတုရန်းမီတာ)ပေါ်တွင် စက်ရုံ တည်ဆောက်ပြီး CMP စနစ်အရ အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား(၂၃-၁၀-၉၈)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၁၉-၁၁-၉၈)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၀/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက်(Win & Zin Garment Ltd.)အား အထည်ချုပ် လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၀၇/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ ကုန်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများ၊ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၇။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -

( ဗိုလ်မှူးချုပ် ဇော်[illegible] )
အတွင်းရေးမှူး

စာအမှတ်၊ ရကာ-၁/မ-၂၉၂/၉၈ ( )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၂[illegible] ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ [illegible] ကုန်သွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၇။ ဒါရိုက်တာ၊ ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက် (Win & Zin Garment Ltd.)။

အမိန့်အရ -

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

(၂.၁၀.၉၇) ၁၇/၉၇ ကို/ဆွဲ



လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | ဝင်းအင်(န်)ဇင်ဂါးမန့်လီမိတက်<br>( Win & Zin Garment Ltd.) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | ဦး အောင်ဝင်း |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | နိုင်ငံတကာအဆင့်မီအထည်အမျိုးမျိုး ချုပ်လုပ်ခြင်း |
| ၄ | တည်နေရာ | အမှတ် ၂၉၊ ပြည်လမ်း၊ ရမိုင်၊ မရမ်းကုန်း မြို့နယ် ရန်ကုန်မြို့။ |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၄၁.၀၀သန်း (US$ ၀.၅၀သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၆.၃၈သန်း |
| | - အဆောက်အအုံ | ကျပ် ၉.၆၂သန်း |
| | - မြေ | ကျပ် ၁၂.၀၀သန်း |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၁.၆၂သန်း (US$ ၀.၂၇သန်း ) |
| | - ကုန်ကြမ်း နှင့် ဆောက်လုပ်ရေးပစ္စည်း | ကျပ် ၁.၃၈သန်း (US$ ၀.၂၃သန်း ) |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | (၁.၅၀၅) ဧက (၆၀၉၀.၅၂ စတုရန်း မီတာ) |
| | - မြေပိုင်ဆိုင်မှု | ဒေါက်တာတစ်ဦး ဖြစ်သူ ဒေါ်လှကျင်အမည်ဖြင့်ရန်ကုန်မြို့ တော်စည်ပင်သာယာရေး ကော်မတီမှစက်ရုံမြေအဖြစ် ချထားပေးသော မြေ ( မြေကိုမတည်ငွေရင်း အဖြစ်ထည့် ဝင်ထားပါသည် ) |
| ၇ | ထုတ်လုပ်မှု ( ပုံမှန်နှစ် ) | CMP စနစ် ( ၉၅ % ) / ပြည်တွင်း ( ၅ % ) |
| | - Jacket (ထည်၀၀၀) | ၁၀၂.၆ / ၅.၄ |
| | - Blouses (ထည်၀၀၀) | ၁၉၇.၆ / ၁၀.၄ |
| | - Shirt (ထည်၀၀၀) | ၁၀၂.၆ / ၅.၄ |
| | - Vests (ထည်၀၀၀) | ၅၁.၃ / ၂.၇ |
| | - Polo Shirt (ဒါဇင်၀၀၀) | ၄၁.၈ / ၂.၂ |
| | -T Shirt (ဒါဇင်၀၀၀) | ၄၁.၈ / ၂.၂ |
| | - Track Suit (ဒါဇင်၀၀၀) | ၂၂.၈ / ၁.၂ |

| | | | |
|---|---|---|---|
| ၈ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | CMP ချုပ်ခ (US$ ) | ပြည်တွင်း (ကျပ်) |
| | - Jacket (ထည်) | ၀.၈၃ | ၉၆၀ |
| | - Blouses (ထည်) | ၀.၄၁ | ၇၂၀ |
| | - Shirt (ထည်) | ၀.၇၄ | ၆၄၀ |
| | - Vests (ထည်) | ၀.၅၈ | ၂၈၀ |
| | - Polo Shirt (ဒါဇင်) | ၄.၀၈ | ၃၄၀၀ |
| | - T Shirt (ဒါဇင်) | ၂.၀၈ | ၃၀၀၀ |
| | - Track Suit (ဒါဇင်) | ၆.၀၈ | ၁၀၄၀၀ |
| ၉ | ဝင်ငွေ (ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၀.၆၇သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၄၃.၄၄သန်း | |
| ၁၀ | အသားတင်အမြတ် (ပုံမှန်နှစ်) | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၀.၅၀သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၄.၈၂သန်း | |
| ၁၁ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် (ကျပ်သန်း) | ၂.၀၇ | |
| | (အမေရိကန်ဒေါ်လာသန်း) | ၀.၀၉ | |
| | - ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၄.၃၄ | |
| ၁၂ | ဝန်ထမ်းအင်အား (ပြည်တွင်း) | (၂၇၁)ဦး | |
| ၁၃ | တည်ဆောက်မှုကာလ | (၁၁) လ | |
| ၁၄ | အခြား | စက်ပစ္စည်းနှင့်ဆောက်လုပ်ရေးပစ္စည်းများကိုထိုင်းနိုင်ငံ Shinawatra Fashion House Ltd. မှ ရှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်းပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ | |

- စက်ပစ္စည်း စာရင်း ကိုပူးတွဲတင်ပြထား ပါသည်။
- ၎င်းလုပ်ငန်း သည်မြန်မာနိုင်ငံသား များ သာလျှင် ပိုင်ဆိုင် သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြား မှမည်သူ့မျှပိုင်ဆိုင်မှုမရှိ ကြောင်း ၊ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း သည့်စည်းကမ်း များ ကိုလိုက်နာမည်ဖြစ် ကြောင်း ၊ လုပ်ငန်း အသစ်ဖြစ်ကြောင်း ၊ လုပ်ငန်း ဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်း မှုနှင့်မီး ဘေးအန္တရာယ်များ ကိုကြိုတင်ကာကွယ် မှုများ ပြုလုပ် ဆောင်ရွက်ထား မည်ဖြစ် ကြောင်း ၊ ရွှေဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည့်စက်ပစ္စည်း နှင့်လုပ်ငန်း သုံးပစ္စည်း များ ကိုအဆိုပြုလုပ်ငန်း မှရရှိသည့်တရားဝင်နိုင်ငံခြား ငွေဖြင့် ပေး ဆပ်မည်ဖြစ်ကြောင်း နှင့် ငွေချေး ယူခြင်း ကိစ္စသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိဘဲ ငွေချေး သူ၏တာဝန်သာ ဖြစ်ကြောင်း ဝန်ခံကတိပြုထား ပါသည်။
- အမှတ် (၁) စက်မှုဝန်ကြီး ဌာနသို့သဘောထား မှတ်ချက် တောင်း ခံထား ဆဲဖြစ်ပါသည်။

WIN & ZIN GARMENT LTD.

## LIST OF MACHINERIES AND EQUIPMENT

To Be Imported By Deferred Payment System. Exhibit No. A

| SR. NO. | PARTICULARS | A/U | QTY | RATE US$ | AMOUNT US$ |
|---|---|---|---|---|---|
| 1 | One needle Lock stitch Machine | Set | 200 | 200 | 40000 |
| 2 | Overlock Sewing Machine | Set | 80 | 400 | 32000 |
| 3 | Two needle Interlock Machine | Nos | 32 | 500 | 16000 |
| 4 | Double needle lockstitch Machine | Set | 30 | 600 | 18000 |
| 5 | Button attach machine | Set | 4 | 1000 | 4000 |
| 6 | Button holding machine | Set | 4 | 1500 | 6000 |
| 7 | Snap Button Machine Full Set | Set | 4 | 200 | 800 |
| 8 | Bar tagging Machine | Set | 4 | 1000 | 4000 |
| 9 | Fusing Machine | Set | 1 | 1500 | 1500 |
| 10 | Couar + Cuff Forming + Pressing Machine | Set | 1 | 2000 | 2000 |
| 11 | Cutting Machine | Set | 4 | 500 | 2000 |
| 12 | Cutting Machine | Set | 2 | 500 | 1000 |
| 13 | Automatic Electric Industrial Boiler | Set | 1 | 2000 | 2000 |
| 14 | Steam Iron with Adjustable Heater | Nos | 10 | 25 | 250 |
| 15 | Industrial Steam Iron | Nos | 20 | 30 | 600 |
| 16 | Vacuum Table | Nos | 10 | 450 | 4500 |
| 17 | Embroidery Machine (20 Heads) | Set | 1 | 15000 | 15000 |
| 18 | Embroidery Machine (8 Heads) | Set | 1 | 11350 | 11350 |
| 19 | Generator 100 KVA | Nos | 1 | 15000 | 15000 |
| 20 | Generator 20 KVA | Nos | 1 | 4000 | 4000 |
| 21 | Air condition (Split) | Nos | 5 | 1000 | 5000 |
| 22 | Copier Machine | Set | 1 | 3000 | 3000 |
| 23 | Computer | Set | 2 | 4500 | 9000 |
| 24 | Wagon (or) Van | Nos | 2 | 17000 | 34000 |
| 25 | Saloon | Nos | 2 | 15000 | 30000 |
| 26 | Computer | Set | 2 | 4500 | 9000 |
| | Total | | | | 270000 |
| | **Construction Materials** | | | | |
| 1 | Cement | Ton | 1200 | 70 | 84000 |
| 2 | M.S iron rods (various size) | Ton | 365 | 400 | 146000 |
| | Total | | | | 230000 |
| | **Grand Total** | | | | 500000 |

မှ [illegible] ငွေ ပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း(၅) ရာခိုင်နှုန်း ဖြင့်(၄) နှစ်အတွင်း ပြန်လည် ပေး ဆပ်မည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်အတွက်ဒါရိုက်တာတစ်ဦးဖြစ်သူ ဒေါ်ဘုကျင် အမည်ဖြင့်ရန်ကုန်မြို့တော်စည်ပင်သာယာ ရေး ကော်မတီမှ စက်ရုံ မြေအဖြစ်ချ ပေးထားသော မြေတိုင်း ရပ်ကွက်အမှတ်(၂၈)၊ ပြည်လမ်း၊ ၇ မိုင်၊ မရမ်း ကုန်း မြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ(၁.၅၀၅) ဧက(၆၀၉၀.၅၂) စတုရန်း မီတာ ပေါ်တွင်စက်ရုံတည်ဆောက်ပြီး အထည်ချုပ်လုပ်ငန်း လုပ်ငန်း ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း မှ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ရောင်း ဈေး နှုန်းများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | (CMP) စနစ်(၉၅%) ထုတ်လုပ်မှု (ထောင်ပေါင်း) | CMP ချုပ်ခ (US$/ယူနစ်) | ပြည်တွင်း (၅%) ထုတ်လုပ်မှု (ထောင်ပေါင်း) | ရောင်းဈေးနှုန်း (ကျပ်/ယူနစ်) |
|---|---|---|---|---|---|
| ၁။ | Jacket (ထည်) | ၁၀၂.၆ | ၀.၀၃ | ၅.၄ | ၈၆၀ |
| ၂။ | Blouses (ထည်) | ၁၈၇.၆ | ၀.၄၁ | ၁၀.၄ | ၇၂၀ |
| ၃။ | Shirt (ထည်) | ၁၀၂.၆ | ၀.၇၄ | ၅.၄ | ၆၄၀ |
| ၄။ | Vests (ထည်) | ၅၁.၃ | ၀.၅၀ | ၂.၇ | ၂၀၀ |
| ၅။ | Polo Shirt (ဒါဇင်) | ၄၁.၀ | ၄.၀၀ | ၂.၂ | ၃၄၀၀ |
| ၆။ | T Shirt (ဒါဇင်) | ၄၁.၀ | ၂.၀၀ | ၂.၂ | ၃၀၀၀ |
| ၇။ | Track Suit (ဒါဇင်) | ၂၂.၀ | ၆.၀၀ | ၁.၂ | ၁၀၄၀၀ |

၅။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေ နှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၄၃.၄၄ | ၄.၀၁ | ၄၇.၄၅ |
| (ခ) အသုံးစရိတ် | ၃၇.၆၂ | ၁.၀၃ | ၃၈.၆၅ |
| (ဂ) အသားတင်အမြတ် | ၅.၈၂ | ၂.၉၈ | ၈.၈၀ |

ပူးတွဲ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်းသုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ ပြည်ပသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် (၅၀) ရာခိုင်နှုန်းဇင် ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျိုးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်းပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်းနှစ်တို့တို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိအမြတ်ငွေမှ နုတ်ယူခွင့်နှင့်မတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်း များ အပေါ် သွင်းအကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက် များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်း သည့်ကုန်ကြမ်း များ ၊ လုပ်ငန်း သုံးပစ္စည်း များအပေါ် သွင်းအကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်း လွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ၊ ပြည်ပသို့ တင်ပို့ရောင်း ချမှုအပေါ် ကုန်သွယ်လုပ်ငန်း ခွန်ကင်း လွတ်ခွင့် မှာဘဏ္ဍာရေး နှင့်အခွန်ဝန်ကြီး ဌာန၏ ၂၀-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၄၇/၉၆ အရအကျုံး ဝင်ပြီး ဖြစ်ပါ သည်။



ဝင်း/ *

010
16/11/98

4006
12.11.98



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/ ၁၈(၁)(၆၁၂၁)/၉၈(၆၃၈၇)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၈ ခု၊ နိုဝင်ဘာ လ ၁၀ ရက်။

အကြောင်းအရာ။ သဘောထား မှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက် နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၂၉၂/၉၈(၄၄၂၈)

၁။ ဝင်းအင်(န်)ဇင်ဂါး မဲန်လီမီတက်မှ မရမ်းကုန်းမြို့နယ်တွင် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့်ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၂။ သို့ရာတွင်ကိုတာသတ်မှတ်ချက်ရှိသောအသင့်ချုပ်ပြီး အထည်များနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့်ကိုတာခွဲဝေပေးနိုင်မည်မဟုတ်ကြောင်း နှင့် ဝင်းအင်(န်)ဇင်ဂါး မဲန်လီမီတက်သည်ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရမှတ်ပုံတင်ထားခြင်း မရှိသေး ပါကြောင်း ဖော်ပြအပ်ပါသည်။

ဝန်ကြီး ( )
( မြင့်ဆွေ၊ ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

DSSY

ဧဌ/ * * *

၄က-၁/မ-၂၆၂/၉၈( ၄၄၂၈ )
၁၉၉၈ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက်။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ ဝင်းအင်(န်)ဂျင်နီယာ ပဲန်လီမိတက်၏ (၁-၉-၉၈) နေ့စွဲပါစာ။

၁။ ဝင်းအင်(န်)ဂျင်နီယာ ပဲန်လီမိတက်သည် ရန်ကုန်တိုင်း၊ မရမ်းကုန်း မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၉) မြေကွက်အမှတ်(၁၇/ခ) မြေအကျယ်(၈.၃၀၅) ဧက ရှိ မြေနေရာတွင် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အတွက် ရည်ညွှန်းပါစာ ဖြင့် ကော်မရှင်သို့ တင်ပြ လျှောက်ထား လာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံး လုပ်နည်းများ အခန်း(၃) အပိုဒ်(၁၁)ပါပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ် ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်း များ၏ သဘောထား များ ကို တောင်းခံရယူရန်လို အပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်း နှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက်တို့ပြန် ကြား ပေး ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၃။ ယင်းအပြင် ယခုအဆိုပြုလုပ်ငန်း သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင် ဆောင်ရွက် နေခြင်း ရှိ-မရှိကို ပါစိစစ်ပြန်ကြား ပေး ပါရန် ထပ် မံ မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်း ရေး မှူး (ကိုယ်စား)
(စီစီ ဝင်း ၊ ညွှန်ကြား ရေး မှူး)

အမှတ်(၁)စက်မှုဝန်ကြီးဌာန
ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ။

ပူး တွဲ- (၁) အဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့်ပတ်သက်၍ ထုတ်ဖော် ချက် မှတ်တမ်းများ
(၃) Deferred Payment Loan Agreement (Draft)
(၄) ငွေရေး ကြေး ရေး အထောက်အထား
(၅) မြေအထောက်အထား

မိတ္တူ ကို-

- ဥက္ကဋ္ဌ
နိုင်ငံခြားသား ဆက်ဆံရေး နှင့်ရင်း နှီး မြှုပ်နှံမှုလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့ တော်စည်ပင်သာယာရေး ကော်မတီ။

1805
21.10.98

2941
16.10.98

R-4087
16.10.98

3459
20.10.98

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

နိုင်ငံခြားဆက်သွယ်ရေးနှင့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖွဲ့

စာအမှတ်၊ ၀၀၀၀၉/၃၂၆၆ / စည်ပင်-အခ(နအ

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ၁ ရ

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၁၀-၉၈ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၂၉၂/၉၈(၄၄၂၉)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဝင်းအင်(န်)ဂျင်ဂါးဒဲ့နီ လီမိတက်သည် ရန်ကုန်တိုင်း မရမ်းကုန်းမြို့နယ် မြေတိုင်းရပ်ကွက်အမှတ်(၂၉) မြေကွက်အမှတ်(၁၇/ခ)၊ မြေအကျယ်(၁.၇၀၅)ဧကရှိ မြေနေရာပေါ်တွင် အထည်အလျှော်မျိုးချုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ ဤကော်မတီအနေဖြင့် မူအားဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

12/10

ဦးတင်မောင်မြင့်
ဥက္ကဋ္ဌ
နိုင်ငံခြားဆက်သွယ်ရေးနှင့်ရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအဖွဲ့

မိတ္တူကို

DM-T2/HWD

ဒုတိယဥက္ကဋ္ဌ(ဒုတိယမြို့တော်ဝန်) ရန်ကုန်မြို့တော်စည်ပင်သာယာရေး
ကော်မတီ

DHMO

ဌာနမှူး၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

ရုံးလက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇က-၁/မ-၉၂၄/၉၀(၅၅၀၆)။
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ နိုဝင်ဘာလ ၆ ရက်

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ဝင်းအင်(န်)ဇင်ဂါး မဲန့်လီမိတက်တည်ထောင်၍အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာ့ကုမ္ပဏီဖြစ်သော ဝင်းအင်(န်)ဇင်ဂါး မဲန့်လီမိတက်( Win and Zin Garment Ltd. )တည်ထောင်၍CMP စနစ်အရအထည်ချုပ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို(၂၄-၁၀-၉၀)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၉/၉၀)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ [illegible] နှင့်ကုမ္ပဏီ ငွေပေးချေခြင်း စနစ်သဘောတူစာချုပ်(မူကြမ်း) ကို နောက်ဆက်တွဲ(၁)အဖြစ်ပေးပို့ထားပါသည်။

၂။ ၎င်းလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာအမေရိကန်ဒေါ်လာ(၀.၅၀)သန်း အပါအဝင်ကျပ်(၄၁.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ်(၁၆.၄၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ်(၉.၆၂)သန်း၊ မြေတန်ဖိုး ကျပ်(၁၂.၀၀)သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုးကျပ်(၁.၆၂)သန်း [အမေရိကန်ဒေါ်လာ(၀.၂၇)သန်း]၊ ဆောက်လုပ်ရေးပစ္စည်းတန်ဖိုးကျပ်(၁.၃၀)သန်း [အမေရိကန်ဒေါ်လာ(၀.၂၃)သန်း] ကိုထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာနှင့်ဆောက်လုပ်ရေးပစ္စည်းကိုထိုင်းနိုင်ငံ Shinawatra Fashion

House Ltd. မှ ရှေ့ဆိုင်း ငွေပေး ချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီးတစ်နှစ် လျှင်အတိုး နှုန်း (၅) ရာခိုင်နှုန်း ဖြင့် (၄) နှစ်အတွင်း ပြန်လည် ပေး ဆပ်မည်ဖြစ် ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက် ရန်အတွက် ဒါရိုက်တာတစ်ဦးဖြစ်သူဒေါ်လှကျင် အမည်ဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာ ရေး ကော်မတီမှ စက်ရုံ မြေအဖြစ်ချ ပေး ထား သော မြေကွက်ိုင်း ရပ်ကွက်အမှတ် (၂၉)၊ ပြည်လမ်း ၊(၇)မိုင်၊ မရမ်း ကုန်းမြို့နယ်၊ ရန်ကုန်မြို့ရှိ မြေ (၁.၅၀၅) ဧက (၆၀၉၀.၅၂) စတုရန်း မီတာ ပေါ်တွင်စက်ရုံတည် ဆောက်ပြီး အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက် မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း မှပုံမှန်နှစ်ရှိထုတ်လုပ်မှုနှင့် ရောင်း ဈေး နှုန်းများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည် —

| စဉ် | အမျိုး အမည် | | C.M.P စနစ် (၉၅ %) | | ပြည်တွင်း (၅ %) | |
|---|---|---|---|---|---|---|
| | | | ထုတ်လုပ်မှု (ထောင်ပေါင်း) | CMP ချုပ်ခ (US$/ ယူနစ်) | ထုတ်လုပ် မှု (ထောင်ပေါင်း) | ရောင်းဈေး နှုန်း (ကျပ်/ ယူနစ်) |
| ၁။ | Jacket | (ထည်) | ၁၀၂.၆ | ၀.၈၃ | ၅.၄ | ၉၆၀ |
| ၂။ | Blouses | (ထည်) | ၁၉၇.၆ | ၀.၄၁ | ၁၀.၇ | ၇၂၀ |
| ၃။ | Shirt | (ထည်) | ၁၀၂.၆ | ၀.၇၄ | ၅.၄ | ၆၄၀ |
| ၄။ | Vests | (ထည်) | ၅၀.၃ | ၀.၅၈ | ၂.၇ | ၂၈၀ |
| ၅။ | Polo Shirt | (ဒါဇင်) | ၄၀.၈ | ၄.၀၈ | ၂.၂ | ၃၄၀၀ |
| ၆။ | T Shirt | (ဒါဇင်) | ၄၀.၈ | ၂.၀၈ | ၂.၂ | ၃၀၀၀ |
| ၇။ | Track Suit | (ဒါဇင်) | ၂၂.၈ | ၆.၀၈ | ၁.၂ | ၁၀၄၀၀ |

၅။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေ နှင့်အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် —

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၄၃.၄၄ | ၄.၀၁ | ၄၇.၄၅ |
| (ခ) အသုံး စရိတ် | ၃၈.၆၂ | ၁.၀၃ | ၃၉.၆၅ |
| (ဂ) အသားတင်အမြတ် | ၄.၈၂ | ၂.၉၈ | ၇.၈၀ |

၁၁။ **ဆုံးဖြတ်ရန်အချက်။**

(က) ဝင်းအင်(န်)ဇင်ဂါး မဲန့်လီမိတက်တည်ထောင်၍အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိုခွင့်ပြုရန်သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါကမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ-မတူ။

၁၂။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်။**

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ်မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။
* အေး * ၅-၁၁-၉၀

27.10.98

O/C

ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

ဝင်း အင်(န်) ဇင် ဂါးမဲန့် လီမိတက်



# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

WIN & ZIN GARMENT LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ (၂၆)ရက်

**အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ WIN & ZIN GARMENT LTD. သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုး ချုပ်လုပ်သည့် စက်ရုံ တည်ဆောက်ပြီး အခစား ချုပ်လုပ်မှုစနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့ တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ ဆုံးဖြတ်ချက် အရ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြ ခွင့်ပြုချက် ရယူနိုင်ရန်အတွက် ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာ (၂၂)စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး အောင် ဝင်း )
ဒါရိုက် တာ
WIN & ZIN GARMENT LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ( ၇ )ရက်

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆို ပြုချက်များ ပေးပို့ ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ WIN & ZIN GARMENT LTD. သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုး ချုပ်လုပ်သည့် စက်ရုံ တည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစိစစ်ရန် တင်ပြထားသော အဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသော အချက်များကို ပြန်လည်ပြင်ဆင်မှုများ ပြုလုပ်ထားပြီးဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလိုဆက်လက်စိစစ် ဆောင်ရွက်ရန်အတွက် ကျွန်တော်တို့၏ ကုမ္ပဏီ အဆိုပြုလွှာ (၂၅) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး အောင် ဝင်း )
ဒါ ရိုက် တာ
WIN & ZIN GARMENT LTD.

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ( ၁ )ရက်

အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင် ရန် ပေးပို့ ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ WIN & ZIN GARMENT LTD. အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အထည်အမျိုးမျိုး ချုပ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး အခစား ထုတ်လုပ်မှုစနစ် Cutting, Making & Packaging ( C.M.P ) ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ကျွန်တော်တို့၏အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅) စုံ ကို ပေးပို့တင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဦး အောင် ဝင်း )

( ဒါရိုက်တာ )

WIN & ZIN GARMENT LTD.

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၇ ခုနှစ်၊ စက်တင်ဘာလ ( ၁ ) ရက်။

ကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ကတိ ခံဝန်ချက်များပေးပို့ခြင်း။</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ကျွန်တော်တို့၏ **WIN & ZIN GARMENT LTD.** အနေဖြင့် ပြည်ထောင်စုနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီအထည်အမျိုးမျိုး ချုပ်လုပ်သည့်စက်ရုံ တည်ဆောက်ပြီး အခစားချုပ်လုပ်မှုဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။ လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ် ပွားစေရန်အတွက် လိုအပ်သော အစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာ ကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုပါသည်။

**WIN & ZIN GARMENT LTD.** သည်လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ရွှေ့ဆိုင်းငွေပေးချေစနစ် ( Deferred Payment System ) ဖြင့် ဝယ်ယူတင်သွင်းပြီး ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည် ဖြစ်ပါသည်။

**WIN & ZIN GARMENT LTD.** သည်လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို ရွှေ့ဆိုင်းငွေပေးချေစနစ် ( Deferred Payment System ) ဖြင့် ရယူဆောင် ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ငွေချေသူ၏ တာဝန်သာလျှင်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ထို့အပြင်နိုင်ငံတော်အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကိုလိုက် နာဆောင်ရွက်မည်ဟုဝန်ခံကတိ ပြုပါသည်။

ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ( ၅ ) ရက်။

**အကြောင်းအရာ။** **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ရရှိသည်နှင့်တပြိုင်နက်ကုမ္ပဏီကိုတရားဝင်ဖွဲ့စည်းတည်ထောင်ပြီးအမည်ပေါက်ပိုင်ဆိုင်သူမှမြေတန်ဖိုးသင့်၍ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြခြင်း။**

၁။ အထက်ပါအကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကမကထပြုသူ ဦးအောင်ဝင်း မှ Win & Zin Garment Ltd. ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင် မှ ခွင့်ပြုမိန့်ရရှိသည်နှင့် တပြိုင်နက် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်တည်ထောင်၍ မြေပိုင်မြေ အမည်ပေါက်သူဒေါ်လှကျင်မှ ကုမ္ပဏီတွင် မြေတန်ဖိုး ၁၂ သန်းသင့်၍ ထည့်ဝင်ရန် သဘောတူညီပြီးဖြစ်ပါသည်။

၂။ မြေပိုင်မြေ အမည်ပေါက်သူ ဒေါ်လှကျင်မှ မိမိတို့ ဖွဲ့စည်းတည်ထောင်မည့် Win & Zin Garment Ltd. တွင် ပါဝင်သူ အစုရှယ်ယာရှင်များမှာ မိသားစုဝင်များဖြစ်ကြသဖြင့် ကုမ္ပဏီတွင် ပါဝင်သည့် ဒါရိုက်တာများအားလုံးအနေနှင့်လည်း ဒေါ်လှကျင်မှ မြေတန်ဖိုး သင့်၍ ထည့်ဝင်ခြင်းကို ဒါရိုက်တာအဖွဲ့ဝင်အားလုံး သဘောတူညီပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံကော်မရှင် မှ ခွင့်ပြုမိန့်ရရှိ ပြီးနောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံကော်မရှင် မှ ချမှတ်ပေးသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ မပျက်မကွက် လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ဒေါ်လှကျင်

မြေပိုင်မြေအမည်ပေါက်သူ

( မိသားစုဝင်ဒါရိုက်တာ )

**အခြားဒါရိုက်တာများ** **လက်မှတ်**

၁။ ဦးအောင်ဝင်း

၂။ ဒေါ်ကြွကြွစင်

၃။ ဦးထွန်းအောင်ဝင်း

၄။ ဒေါ်ဝင်းသီနိုင်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ( ၁ ) ရက်။

အကြောင်းအရာ။ ။ <u>ပြည်ထောင်စုမြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့် ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များလျှောက်ထားခြင်း။</u>

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ WIN & ZIN GARMENT LTD. သည်ရန်ကုန်တိုင်း၊ မရမ်းကုန်းမြို့နယ် မြေတိုင်းရပ်ကွက်အမှတ်(၂၉)၊ မြေကွက်အမှတ် (၁၇/ခ) မြေအကျယ် (၁.၅၀၅) ဧက ရှိမြေနေရာတွင် အထည်အမျိုးမျိုး ချုပ်လုပ်သည့်စက်ရုံ ကို တည်ဆောက်၍ အခစားထုတ်လုပ်မှုစနစ်ဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် တွင် ကမ္ဘာ့အဆင့်အတန်းမီ အထည်အမျိုးမျိုး ချုပ်လုပ်၍ နိုင်ငံခြားသို့ တင်ပို့နိုင်ရန်အတွက် ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများ ဖြင့်ပြုလုပ်ခွင့်ရရှိရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည် အထည်အမျိုးမျိုးချုပ်လုပ်ခြင်းအတွက် လိုအပ်မည့် ကမ္ဘာ့အဆင့်အတန်းမီ စက်ကိရိယာများ နှင့်ဆောက်လုပ်ရေးပစ္စည်းများ ကိုပြည်ပမှ ဝယ်ယူပြီး အရင်းအနှီး အဖြစ်ထည့်ဝင်မည် ဖြစ်ပြီး အမေရိကန် ဒေါ်လာ (၅)သိန်းတန်ဖိုးရှိ စက်ကိရိယာပစ္စည်းများနှင့် ဆောက်လုပ်ရေးပစ္စည်းကို ထိုင်းနိုင်ငံ SHINOWATRA FASHION HOUSE LTD. မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် (Deferred Payment System) အရ (၄) နှစ်အတွင်းပြန်လည်ပေးဆပ်၍ အကြွေး ဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက်ရင်းနှီးငွေ စုစုပေါင်း(၃၀)သန်း ကိုမြန်မာနိုင်ငံ ကျပ်ငွေ၊ စက်ရုံအဆောက်အဦး၊ မြေ၊ စက်ပစ္စည်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီး မြှုပ်နှံကြမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ ၍ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်းအခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ထုတ်လုပ်ရရှိသော ကမ္ဘာ့အဆင့်အတန်းမီ အထည်အမျိုးမျိုး များ၏ (၉၅)% ကို နိုင်ငံခြားသို့ တင်ပို့မည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သောအခွန် ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများ အတွက်အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာများတိုးပွား ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ WIN & ZIN GARMENT LTD. ၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ကင်းလွတ်ခွင့်များကိုလည်းပေးပါရန် ရိုသေလေးစားစွာ ဖြင့်လျှောက်ထား အပ်ပါသည်။

